# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ - ၀၂၈/၉၆ ၁၉၉၆ ခုနှစ်၊ ဇူလိုင် လ ၂၂ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦး ဇေး ဇော်ဝင်း

(ခ) အဘအမည် ဦး ဇော်မြင့်သိန်း

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ပု/ ဒဂုံ(နိုင်) - ၀၀၁၅၈၅

(ဃ) နေရပ်လိပ်စာ ၁၉၊ မေခလလမ်း၊ မရမ်းကုန်းမြို့နယ်
ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း နဝရတ်မရိန်း မြန်မာကုမ္ပဏီ လီမိတက် ( NAWARAT MARINE MYANMAR CO., LTD).

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား
ရေကြောင်းပစ္စည်း ကုန်သွယ်လုပ်မှုလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ရခိုင်ပြည်နယ်၊ ဧရာဝတီတိုင်း
မွန်ပြည်နယ်၊ တနင်္သာရီတိုင်း

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၃၂ သန်း (ကျပ်သုံးဆယ့်နှစ်သန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

လျှို့ဝှက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၂၂/၉၆

ရန်ကုန်မြို့၊ ၁၃၅၈ ခုနှစ်ဒုတိယဝါဆိုလဆန်း ၇ ရက်

( ၁၉၉၆ ခုနှစ်၊ ဇူလိုင်လ ၂၂ ရက် )

၁။ မြန်မာနိုင်ငံသားများဖြစ်ကြသည့် ဦးအေးဇော်ဝင်းနှင့် ဦးကျော်ဘုန်းမြင့်တို့သည် နဝရတ်မရိန်းမြန်မာကုမ္ပဏီလီမိတက်တည်ထောင်၍ ရေထွက်ပစ္စည်းကုန်ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြလာခြင်းကို ( ၁၉-၄-၉၆ ) နေ့တွင်ကျင်းပပြုလုပ်သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၆/၉၆ ) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန်မူအားဖြင့်သဘောတူကြောင်းနှင့်အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်နှင့်အညီ ( ၁၉-၆-၉၆ ) နေ့တွင်ကျင်းပပြုလုပ်သည့်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ ( ၂၂/၉၆ ) ကြိမ်မြောက်အစည်းအဝေးသို့ ဒုတိယဝန်ကြီးချုပ်ရုံးမှတင်ပြခဲ့ရာ ယင်းအစည်းအဝေးမှသဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း-၅၊ ပုဒ်မ ( ၁၀ ) အရအပ်နှင်းထားသောလုပ်ပိုင်ခွင့်များကိုကျင့်သုံးလျက် နဝရတ်မရိန်းမြန်မာကုမ္ပဏီလီမိတက်အား အဆိုပြုလုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက်ခွင့်ပြုမိန့်အမှတ်၊ မနသ-၀၂၀/၉၆ ကိုထုတ်ပေးလိုက်သည်။

၂။ နဝရတ်မရိနီးမြန်မာကုမ္ပဏီလီမိတက်အနေဖြင့်ခွင့်ပြုမိန့်အရ ရေထွက်ပစ္စည်းကုန်ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း ( ၇ )၊ ပုဒ်မ-၁၂အရ စီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင်တစ်ဆက်တည်း ( ၃ ) နှစ်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့်ဥပဒေပုဒ်မ-၁၃ပါ ပြဋ္ဌာန်းချက်များနှင့်အညီ **အောက်**ဖော်ပြပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ခံစားခွင့်ပြုရန်ဤအမိန့်ကြော်ငြာစာကိုထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ-၁၃ ( က ) အရ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သော နိုင်ငံခြားငွေပမာဏပေါ်မူတည်၍ဝင်ငွေခွန်သက်သာခွင့်ခံစားနိုင်ရန်အတွက် ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက်လုပ်ငန်းအကောင်အထည်ဖော်မှုအခြေအနေပေါ်မူတည်၍ ကော်မရှင်သို့ လျှောက်ထားရမည်။

လျှို့ဝှက်

(ခ) ဥပဒေပုဒ်မ - ၁၃ (ခ) အရ လုပ်ငန်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၃၀) ရာခိုင်နှုန်း အထိကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန်သက်သာခွင့်ကို ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ် ခံစားပြီး နောက်လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကို ဖော်ပြလျက်ဤကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ - ၁၃ (ဂ) အရ ကုန်ထုတ်လုပ်မှုလုပ်ငန်းကြောင့်သတ်မှတ်သည့်နှုန်းအထိ ပြည်တွင်း ပြည်ပဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့် အညီဝင်ငွေခွန်သက်သာခွင့်ခံစားနိုင်ရန်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါလုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ - ၁၃ (ဃ) အရ အဆင့်မြင့်နည်းပညာရပ်များ ဖွံ့ဖြိုးတိုးတက်စေရန် ဆောင်ရွက်သော ပွားရေးလုပ်ငန်းဖြစ်ပါက သင့်လျော်သောကာလအထိဝင်ငွေခွန်သက်သာခွင့်အတွက်လုပ်ငန်းအကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက်ဤကော်မရှင်သို့ လျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ - ၁၃ (င) အရ လုပ်ငန်းမှရရှိသည့်အမြတ်ငွေကိုသီးသန့်ရန်ပုံငွေထား၍တစ်နှစ်အတွင်း လုပ်ငန်းသို့ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင်ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ရရှိရန်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါလုပ်ငန်းအကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ - ၁၃ (ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကိုသတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတိုနှင့်မူလတန်ဖိုးပြည့်မီသည့်အထိအမြတ်ငွေမှနုတ်ပယ်ခွင့်နှင့်စပ်လျဉ်း၍ယင်းတန်ဖိုးလျော့နှုန်းထားများကို ကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ-၁၃ (ဇ) အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌မရရှိနိုင်သည့်အမှန်တကယ်လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာအစိတ်အပိုင်းနှင့်လုပ်ငန်းသုံးပစ္စည်းများအပေါ်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသည်။

(ဇ) ဥပဒေပုဒ်မ - ၁၃ (ဈ) အရ သတ်မှတ်ထားသည့်ကနဦးရင်းနှီးမြှုပ်နှံမှုကာလကုန်ဆုံး၍ ပထမ (၃) နှစ်အတွက်ကုန်ထုတ်လုပ်ရန်တင်သွင်းသည့်ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကိုကင်းလွတ်ခွင့်ပြုသည်။

(ဈ) ဥပဒေပုဒ်မ-၁၃(ည)အရ ထုတ်လုပ်မည့်ကုန်ပစ္စည်းများကိုပြည်ပသို့ တင်ပို့ရောင်းချမှုအပေါ်ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ-၁၃(ဇ)အရ ပြည်ပမှတင်သွင်းသည့်စက်ပစ္စည်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေရရှိပုံနည်းလမ်း (Source of payments for Import )ဥပမာ-ပြည်ပတင်ပို့မှုမှဝင်ငွေ၊ ပြည်ပချေးငွေ ( Loan and Credits )ကုန်ပစ္စည်းပြန်လည်ဝယ်ယူသည့်စနစ် ( Buy-back System ) စသည်တို့ကို ဖော်ပြရန်၊

(ခ) တင်သွင်းမည့်ပစ္စည်းအမျိုးအစားစာရင်း ( Invoice and Packing List )များကိုနိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်သို့တင်ပြ၍ ထောက်ခံချက်ရယူရန်၊

၄။ နဝရတ်မရိန်းမြန်မာကုမ္ပဏီလီမိတက်ကို မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေနှင့်အညီမှတ်ပုံတင်နိုင်ရန်အတွက်ကုမ္ပဏီများညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအားမှတ်ပုံတင်ပြီးသည့်အခါ အောက်ဖော်ပြပါစာရွက်စာတမ်း (၅)စောင်စီကို ကော်မရှင်ရုံးသို့ ပေးပို့တင်ပြရမည်။

(က) ကုမ္ပဏီမှတ်ပုံတင်လက်မှတ် ( Certificate of Incorporation )

(ခ) ကုမ္ပဏီများညွှန်ကြားမှုဌာနကအတည်ပြုပြီးဖြစ်သည့်မြန်မာ-အင်္ဂလိပ်နှစ်ဘာသာဖြင့်ပြုစုထားသောကုမ္ပဏီ၏သင်းဖွဲ့စည်းမျဉ်းနှင့်သင်းဖွဲ့မှတ်တမ်းများ ( Memorandum and Articles of Association )

၅။ နဝရတ်မရိန်းမြန်မာကုမ္ပဏီလီမိတက်ဖွဲ့စည်းပြီးပါက၊ ရာဟုစက်မှုဓါတုလုပ်ငန်းလီမိတက် ( RICE ) နှင့်လက်မှတ်ရေးထိုးထားသောချေးငွေစာချုပ်နှင့် Sale Agreement များ၏ရပိုင်ခွင့်၊ ပေးပိုင်ခွင့်နှင့်တာဝန်များကိုလွှဲပြောင်းပေးသည့်စာချုပ် ( Deed of Assignment )အားလက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းစာချုပ်မိတ္တူ(၅)စောင်ကို ကော်မရှင်သို့ ပေးပို့တင်ပြရမည်။

၆။ နဝရတ်မရိန်း မြန်မာကုမ္ပဏီလီမိတက်မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့်ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများ အခန်း (၉)၊ အပိုဒ် (၃၃) တွင်သတ်မှတ်ချက်များနှင့် အညီ ကော်မရှင်သို့သီးခြား တင်ပြလျှောက်ထားရမည်။

၇။ နဝရတ်မရိန်း မြန်မာကုမ္ပဏီလီမိတက်သည် ဤခွင့်ပြုမိန့်အရ ရေထွက်ပစ္စည်း ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှု စသည်များ မဖြစ်ပေါ်စေရန်အတွက်လိုအပ်သည့်ပတ်ဝန်းကျင်ညစ်ညမ်းမှုထိန်းသိမ်းကာကွယ်ရေး အစီအမံများကို စနစ်တကျထားရှိ ဆောင်ရွက်ရမည်။

၈။ အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်သည့်နေ့ရက်ကို ဤကော်မရှင်သို့အမြန်ဆုံး အစီရင်ခံရမည်။

၉။ ဤခွင့်ပြုမိန့်ထုတ်ပေးသည့်နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

အမိန့်အရ -



( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး
[ ဝန်ကြီး၊ ဒုတိယဝန်ကြီးချုပ်ရုံး ]

စာအမှတ်၊ ရက-၁/ မ-၀၃၂/ ၉၆ ( ၀၅၀၇ )။
ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ ဇူလိုင်လ ၂၂ ရက်။



*၅၁၀/ ၇/ ၉၆။

ဖြန့်ဝေခြင်း -

၁။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ဥက္ကဋ္ဌရုံး ။

၂။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ရုံး ။

၃။ အစိုးရအဖွဲ့ရုံး ။

၄။ ဒုတိယဝန်ကြီးချုပ်ရုံး ။

၅။ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန ။

၆။ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန ။

၇။ ကုန်သွယ်ရေးဝန်ကြီးဌာန ။

၈။ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန ။

၉။ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန ။

၁၀။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ် ။

၁၁။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ် ။

(ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်းစာရင်းအင်းနှင့်စစ်ဆေးရေးဦးစီးဌာန ။)

၁၂။ သွန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန ။

၁၃။ သွန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန ။

၁၄။ ဦးဆောင်သွန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း ။

၁၅။ သွန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးသွန်ကြားမှုဦးစီးဌာန ။

၁၆။ သွန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန ။

၁၇။ ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်း ။

၁၈။ သွန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ။

၁၉။ နဝရတ်မရိန်းမြန်မာကုမ္ပဏီလီမိတက် ။

အမိန့်အရ -

(မေခင်မေခင်ရီ)
တွဲဖက်အတွင်းရေးမှူး ။